

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ပုံစံ (မနသ-၂)
ဘာအမှတ် ၅၄၇-က
ရက်စွဲ ၂၄. ၇. ၂၀၁၅



ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၀၆၉ / ၂၀၁၅ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၂၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးအောင်မျိုးမင်းဒင်

(ခ) **အဘ အမည်** ဦးမင်းဒင် (ခ) ဦးလှဖေသန်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ကမရ(နိုင်) ဝ၂၈၁၂၂

(ဃ) **နေရပ်လိပ်စာ** အမှတ်(၉၉-အို)၊ သံလွင်လမ်း၊ (၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာတိုး(စ်)အင်(န်)အင်စမ်းတစ်(စ်) ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** B.O.T စနစ်ဖြင့် ကြယ်လေးပွင့် အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာအုပ်စု အမှတ်(၃၈)၊ ကွင်းအမှတ် (၂၀၂)၊ ဦးပိုင်အမှတ် ၆၅-က၊ ၁၀၆၊ ၁၀၇-ဃ၊င၊စ၊ ၁၀၈-က၊ခ၊ ၁၀၉-က၊ခ၊ ငပလီကမ်းခြေရှိမြေ ၄.၃၃ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၄၂၀၀.၀၀ သန်း(အမေရိကန်ဒေါ်လာ ၁.၁၉သန်းခန့် အပါအဝင် စုစုပေါင်းကျပ် သန်းပေါင်း လေးထောင့် နှစ်ရာတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

### အမိန့်ကြော်ငြာစာအမှတ်၊ ၆၈ / ၂၀၁၅ (မနသ)

### ၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၄ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ အုပ်စုအမှတ်(၁၈)၊ ကွင်းအမှတ် (၂၀၂)၊ ဦးပိုင်အမှတ် ၆၅-က၊ ၁၀၆၊ ၁၀၇-ဃ၊င၊စ၊ ၁၀၈-က၊ခ၊ ၁၀၉-က၊ခ၊ ငပလီကမ်းခြေရှိမြေ ၄.၃၃ ဧကအား B.O.T စနစ်ဖြင့်ငှါးရမ်း၍ မူလအခန်း(၄၉)ခန်းအား ပြင်ဆင်မွမ်းမံခြင်းနှင့် အခန်းအသစ် (၅၃)ခန်းအား တည်ဆောက်၍ Amazing Ngapali Resort အမည်ဖြင့် ကြယ်လေးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၅ ခုနှစ် ဇူလိုင်လ ၃ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြု ကြောင်း ဆုံးဖြတ်ခဲ့သည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်) အင်(န်)အင်စမ်းတစ်(စ်) ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် ကြယ်လေးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၀၆၉ / ၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ ဝန်ဆောင်မှုလုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ

လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန် အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၇။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်) သည် တည်ဆောက်ရေးကာလ (၂)နှစ်အတွင်း ရရှိသော ဝင်ငွေအပေါ် ထိုက်သင့်သော ဝင်ငွေခွန်ကို ပေးဆောင်ရမည်။

၈။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ကာကွယ်ရေး ဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံး နှင့် Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်) ဗင်းချားမြန်မာ တိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်) တို့ချုပ်ဆိုမည့် B.O.T စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ(၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၉။ B.O.T စနစ်ဖြင့် မြေငှားရမ်းမည့်ကာလမှာ ကနဦးနှစ်(၅၀)နှင့် ကော်မရှင်မှ သဘောတူပါက တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် နှစ်ကြိမ်သက်တမ်း တိုးမြှင့်ငှားရမ်းနိုင်သည်။

၁၀။ နှစ်စဉ်မြေငှားရမ်းခအား တစ်နှစ်လျှင် မြန်မာကျပ်ငွေ ၃၂၄၇၅၀၀၀ ရှုန်းဖြင့် နှစ်စဉ် ပေးသွင်းရမည်။

၁၁။ မြေအသုံးချမှုပရီမီယံကြေးအား မြေ(၁)ဧကလျှင် ကျပ်သိန်း၂၅၀၀နှုန်းဖြင့် မြေ(၄.၃၃) ဧက အတွက် စုစုပေါင်းကျပ်သိန်း ၁၀၈၂၅ အား အောက်ပါအတိုင်း(၄)ကြိမ်ခွဲ၍ ပေးသွင်းရမည် -

- ပထမအကြိမ်၂၅% ကို B.O.T စာချုပ် လက်မှတ်ရေးထိုးပြီး (၁)လ အတွင်း
- ဒုတိယအကြိမ် ၂၅% ကို B.O.T စာချုပ် လက်မှတ်ရေးထိုးပြီး (၈)လ အတွင်း
- တတိယအကြိမ် ၂၅% ကို B.O.T စာချုပ်လက်မှတ်ရေးထိုးပြီး (၁၆)လ အတွင်း
- စတုတ္ထအကြိမ် ၂၅% ကို B.O.T စာချုပ်လက်မှတ်ရေးထိုးပြီး (၂၄)လအတွင်း

၁၂။ နှစ်စဉ်မြေငှားရမ်းခကို (၅)နှစ်တစ်ကြိမ် နှစ်ဖက်ပြန်လည်ညှိနှိုင်း သုံးသပ်ရမည်ဖြစ်သည်။ ငှားရမ်းခကို ထပ်မံတိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ ၁၅% ထက် မကျော်လွန်စေရ။

၁၃။ စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့မှ (သို့မဟုတ်) စာချုပ်ရုပ်စဲသည့်နေ့မှ (၃)လအတွင်း Adventure Myanmar Tours & Incentives Co., Ltd. မှ အငှားချထား သည့် မြေနှင့် အဆောက်အဦများ ယင်းမြေပေါ်ရှိ Adventure Myanmar Tours & Incentives Co., Ltd. မှ

ဆောက်လုပ်ထားသည့် အဆောက်အဦများနှင့် ပစ္စည်းများ အားလုံးကို မည်သည့် အဖိုးစားနား မျှမပါရှိဘဲ စစ်ထောက်ချုပ်ရုံးသို့ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်း ပေးအပ်ခြင်း ပြုရမည်။ သို့ရာတွင် ဟိုတယ်လုပ်ငန်းနှင့် ယင်းမြေပေါ်တွင် Adventure Myanmar Tours & Incentives Co., Ltd. မှ ဆောက်လုပ်ခဲ့သည့် အဆောက်အဦတွင် တပ်ဆင်ထားသည့် (Fixture) ပစ္စည်း များမှအပ ကျန်ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများ အားလုံးကို Adventure Myanmar Tours & Incentives Co., Ltd. မှ ယူဆောင်သွားနိုင်သည်။

၁၄။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်) အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် ဟိုတယ်တည်ဆောက်ရေးအတွက် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော (၂/၂၀၁၅)အမိန့်ကြော်ငြာစာနှင့်အညီ ကမ်းခြေခရီးစဉ်ဒေသ ရေရှည်တည်တံ့ခိုင်မြဲရေးအတွက် အချက်များကို လိုက်နာဆောင်ရွက်ရန်နှင့် ဟိုတယ် တည်ဆောက်ရေး အခန်းများ ဖွဲ့စည်းရေး နှင့် လိုအပ်သော Facilities များ ထည့်သွင်းရေး အတွက် မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ဥပဒေ၊ မြန်မာနိုင်ငံ ခရီးသွားလာရေး ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်များတွင်ပါဝင်သော ဟိုတယ် တည်ဆောက်ရေးဆိုင်ရာ အခြေခံ လိုအပ်ချက်နှင့်စံနှုန်းများ (Basic Requirement and Criteria)ထက် မနိမ့်ကျစေရေးအတွက် အဆိုပါ ဥပဒေအမိန့်ကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရမည်။

၁၅။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်) အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် အဆောက်အအုံ ပြီးစီးသည့်အခါ ဟိုတယ်လုပ်ငန်း လိုင်စင်ရရှိရေးအတွက် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနသို့ လျှောက်ထားရမည်။

၁၆။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်) အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၇။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်) အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီး ဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည် စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၈။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်) အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက် ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်းစနစ် တကျထားရှိ ဆောင်ရွက်

ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ ဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၉။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment —EIA) အစီရင်ခံစာ၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်(Environmental Management Plan - EMP) တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၂၀။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင်နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၁။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၂၃။ Adventure Myanmar Tours & Incentives Co., Ltd. (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် အဖွဲ့အစည်းတို့မှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ရမည်။

၂၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသည့် ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသည့် လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်းခံရမည်။

၂၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက- ၄/မ- ၁၄၇၆/၂၀၁၅ (၅၉၇-၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၂၄ ရက်
ဖြန့်ဝေခြင်း -
သမ္မတဦးစီးရုံး
ဒုတိယ သမ္မတ(၁) ဦးစီးရုံး
ဒုတိယ သမ္မတ(၂) ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

၇

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
မြန်မာနိုင်ငံတော် ဗဟိုဘဏ်
ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ သံတွဲမြို့
စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေး ဦးစီးချုပ်ရုံး(ကြည်း)
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှုဦးစီးဌာန
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ ရန်ကုန်မြို့
မန်နေဂျင်းဒါရိုက်တာ၊ Adventure Myanmar Tours & Incentives Co., Ltd.
(အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်) အင်(န်)အင်စမ်းတစ်(ဗ်)ကုမ္ပဏီလီမိတက်)